၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ့် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆-လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌ သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့် ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားအတွင်းအဆိုပါ မြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေတစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့်အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂-အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရုပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

# အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၉ ခုနှစ် အတွင်းတွင် ဖြစ်စေ
ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက်ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊ အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာ ချုပ်ကို ပယ်ဖျက်၍ အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲကွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂–အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့် အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများသို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂–အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၄ )ခုနှစ်၊ ဧပြီ လ၊ ( ၂၈ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄–အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လ အတွင်းနောင်နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌ
မြို့ ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံ
ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ Asia World Co. Ltd သည် ဤစာချုပ်ကိုအထ
ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့-ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ဦးအုံးကျော် ________ ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ဗိုလ်မှူးကြီး တင်ထွန်း ________ ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး ဦးတင်ဝင်း တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ဦးကျော်ဝင်း

အငှားစာချုပ်ရသူ Asia World Co. Ltd က
လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

TUN MYINT NAING
MANAGING DIRECTOR
ASIA WORLD CO., LTD.

**အသိသက်သေ။**

၁။ ________

၂။ ________

**အထက်တွင် ရည်ညွှန်းထားသည့် ဇယား**

ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ________
မြေတိုင်းရပ်ကွက်အမှတ် ၂၃
ရန်ကုန်မြို့ အုံဖြိုးသစ်တောင်ပိုင်း မြို့နယ်။
အတွင်းရှိ ________ တန်းစား၊ မြေကွက်အမှတ် ၁၂၅
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၃၀၅ / ၃၄၇' ပေ၊ အနံ ၃၁၅ / ၅၂၀' ပေခန့်ရှိသော အလား အလာ
အရှေ့လားသော် လမ်း
အနောက်လားသော် လမ်း
တောင်လားသော် ဈေးကွက်ကွက် ၁၂၆
မြောက်လားသော် လမ်း
အတွင်းရှိ မြေအားလုံး ဧရိယာ ၃.၁၄၂ ဧက၊ (စတုရန်းပေ ၁၃၆၈၀၂ )

ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ

ဆောက် လုပ် ရေး ဝန် ကြီး ဌာန

မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန
(မြေနှင့်အခွန်ဌာနခွဲ)

# အိမ် ရာ ဆောက် လုပ် နေ ထိုင် ခွင့်

(တစ်ဆင့်လွှဲပြောင်း၊ ရောင်းချ၊ ပေါင်နှံ၊ ပေးကမ်းခြင်းမရှိစေရ)

နေထိုင်ခွင့်လက်မှတ် .... .... .... .... .... ....

.... ....ဦး[illegible] ၏ သား/သမီး၊အသက်.......... အလုပ်အကိုင်.... [illegible] ....
.... .... .... ....[illegible] ....[illegible] .... .... ....အား [illegible] ([illegible]) ....
မြို့ မြေကွက်အမှတ် .... ....[illegible] ၂၇/၁၂၅... .... .... ကို အောက်ပါစည်းကမ်းချက်များဖြင့် နေထိုင်ခွင့် ပြုလိုက်သည်။

## လိုက်နာရမည့်စည်းကမ်းချက်များ

၁။ နေထိုင်ခွင့်ရသော အိမ်ရာမြေကွက်တွင် အဆောက်အဦးကို မြေလက်ခံရရှိပြီးသည့်နေ့မှ တစ်လအတွင်း အိမ်ဆောက်လုပ်၍ ကိုယ်တိုင်နေထိုင်ရပါမည်။

၂။ အိမ်ရာမြေကွက်တွင် လူနေအိမ်တစ်အိမ်ထက်ပို၍ ဆောက်လုပ်ခြင်းမရှိရ။ အခါအားလျော်စွာ သက်ဆိုင်ရာ ဒေသန္တရ အုပ်ချုပ်ရေးအဖွဲ့မှလည်းကောင်း၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှလည်းကောင်း သတ်မှတ်ထားသော အဆောက်အဦးစည်းကမ်းများအရ နေအိမ်ဆောက်လုပ်ရမည်။ နောက်ဆက်တွဲ''က''အတိုင်း လောလောဆယ် လိုက်နာရမည်။

၃။ နေထိုင်ခွင့်ရသော မြေကွက်တွင် လူနေအိမ်ကိုစွမှတစ်ပါး ဒုတိယည့်နှုန်းကြေးရမှုး (မြေနှင့်အခွန်ဌာနခွဲ)၏ စာဖြင့်ကြိုတင်ခွင့်ပြုချက်မရရှိဘဲ အခြားကိစ္စအတွက် အသုံးမပြုရ။

၄။ အိမ်ရာမြေရသူသည် မြေကွက်ကိုခွဲစိတ်ခြင်း၊ တစ်ဆင့်လွှဲပြောင်းရောင်းချ ပေါင်နှံပေးကမ်းခြင်း လုံးဝမပြုရ။

၅။ အိမ်ရာမြေကွက်ရသူသည် သတ်မှတ်ထားသော စည်းကမ်းများကို လိုက်နာရန် ပျက်ကွက်ပါက ခွင့်ပြုထားသော မြေကွက်ကို မြေပေါ်ရှိအဆောက်အဦးနှင့်တကွ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနက ပြန်လည်သိမ်းယူပိုင်ခွင့်ရှိသည်။

၆။ မြေကွက်တွင် အိမ်ရာဆောက်လုပ် နေထိုင်ခွင့်ပြုသော သက်တမ်းသည် ၁၉၉ ခုနှစ်... .......... ..........
(   )ရက်နေ့တွင် ကုန်ဆုံးမည်။ နေထိုင်ခွင့်ကာလ ကုန်ဆုံးသောအခါ အမြဲတမ်းနေထိုင်ခွင့်ရယူပါက မြေငှားစာချုပ် ချုပ်ဆိုထားရမည်။

**အပိုစည်းကမ်းချက်**

အဆောက်အဦးဆောက်လုပ်ပြီး ကိုယ်တိုင်နေထိုင်ခွင့် ရမည့်အပြင် ပိုသောအခန်းများကို ငှားရမ်းလိုပါက အိမ်ပိုင်ရှင်သည် မြေနှင့်အခွန်ဌာနခွဲ (ဒုတိယညွှန်ကြားရေးမှူး)ထံမှ ခွင့်ပြုချက်ကိုတင်တောင်းယူရရှိပြီးမှ ငှားရမ်းခွင့်ရှိသည်။ သင့်တော်သော အိမ်လခ၊ ငှားရမ်းခနှုန်းထားကို မြေနှင့်အခွန်ဌာနခွဲ ဒုတိယညွှန်ကြားရေးမှူးက သတ်မှတ်ခွင့်ရှိပြီး အိမ်ငှားရမ်းခွင့် ပြုခြင်းကိုလည်း အကြောင်းပြ၍ ပြင်းပယ်ခွင့်ရှိသည်။

ဆောက်လုပ်ရေးဝန်ကြီးဌာန
စာအမှတ် ........
ရက်စွဲ ........
မြေနှင့်အခွန်ဌာနခွဲ
အိမ်ရာနှင့်အိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

အိမ်ရာဆောက်လုပ်ခွင့်ရသူ၏ထိုးမြဲလက်မှတ်

18.1.96

[illegible]
ဒုတိယညွှန်ကြားရေးမှူး (ကိုယ်စား)
မြေနှင့်အခွန်ဌာနခွဲ
[illegible]
အိမ်ရာနှင့်အိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

လက်ဝဲလက်မပုံစံ

ရက်စွဲ၊ ၁၉၉ ခုနှစ်၊ လ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

# အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၅၈၉ /၁၉၉၆-၁၉၉၇

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ အေးရှားဝါး(လ်)အင်ဒတ်(စ်)ထရီ လီမိတက် အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက်ကုမ္ပဏီအဖြစ် ၁၉၉၆ နှစ်၊ ဩဂုတ် လ ၁ ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

(သိန်းတင်)
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ထုတ်လုပ်မှု/ဆောက်လုပ်ရေး
INDUSTRIAL/PRODUCTION/CONSTRUCTION

* * *

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND
ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

**No.** 589 **of 1996 - 1997**

*I hereby certify that* ASIA WORLD INDUSTRIES LIMITED *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* FIRST *day of* AUGUST *one thousand nine hundred and* NINETY SIX

စက်ရုံအလုပ်ရုံတည်ရှိရာအရပ်သည်၊
စက်မှုလက်မှုဇုန်တွင်ဖြစ်စေရမည် (သို့မဟုတ်)
လူနေရပ်ကွက်နှင့်ကင်းလွတ်ရာအရပ်၌
ဖြစ်စေရမည်။

( [illegible] )
**Registrar of Joint Stock Companies**
**Companies Registration Office**

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကုန်သွယ်ရေးဝန်ကြီးဌာန
~~ကုန်သွယ်ရေးဝန်ကြီးဌာန~~

ကုန်သွယ်ရေးညွန်ကြားမှုဦးစီးဌာန

# ထုတ်ကုန် သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ်

ကြိုးကြပ်အမှတ် တသက - ၆၅၄၀ ထုတ်ပေးသည့်ရက်စွဲ ၂၅ - ၉ - ၉၆

၁။ ရန်ကုန် ပြည်နယ် / တိုင်း လမ်းမတော် မြို့ / မြို့နယ်အတွင်းရှိ
အေ့ဝှား ဝါး (လ်) အင်ဒတ် (စ်) ထရိလီမိတက်
အား ထုတ်ကုန် သွင်းကုန်လုပ်ငန်းရှင် အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(က) လုပ်ငန်းအမျိုးအစား လီမိတက်ကုမ္ပဏီ

(ခ) လုပ်ငန်းမှတ်ပုံတင်အမှတ် ၅၀၉ / ၉၆ - ၉၇

(ဂ) လုပ်ငန်းဌာနလိပ်စာ အမှတ်(၆၁-၆၂)ဗဟိုစည်ပင်ဖွံ့ဖြိုးမှု၊ ဝါးတန်းလမ်း၊ လမ်းမတော် မြို့နယ်၊ ရန်ကုန်တိုင်း

တယ်လီဖုန်းအမှတ် ______ တယ်လက်အမှတ် ______ ဖက်စ်အမှတ် ______

(ဃ) ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် — ကန့်သတ်ထားသောကုန်ပစ္စည်းအမယ်များမှလွဲ၍ ကုန်ပစ္စည်းများအားလုံး

(င) မှတ်ပုံတင်သက်တမ်း ၂၅ - ၉ - ၉၆ မှ ၂၄ - ၉ - ၉၉ ထိ (သုံး) နှစ် ။

မှတ်ချက်။ ။ လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန် သွင်းကုန်လုပ်ငန်းလုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( မောင်ဝင်း လက်ထောက်ညွှန်ကြားရေးမှူး )

၂။ ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင်မှတ်ပုံတင်အား သက်တမ်း တိုးမြှင့်ပေးခြင်း။

| သက်တမ်းတိုးမြှင့်သည့်ကာလ | | | | ခွင့်ပြုသူလက်မှတ်နှင့်အမည် |
|---|---|---|---|---|
| (၁) ______ | နေ့မှ | ______ | ထိ | ______ |
| (၂) ______ | နေ့မှ | ______ | ထိ | ______ |
| (၃) ______ | နေ့မှ | ______ | ထိ | ______ |

THE GOVERNMENT OF THE
UNION OF MYANMAR
MINISTRY OF COMMERCE
~~MINISTRY OF TRADE~~

DIRECTORATE OF TRADE

NO. ..............
DATE..............
(DIRECTORATE OF TRADE (IMPORT-EXPORT CONTROL DEPT.))

# CERTIFICATE OF EXPORTER / IMPORTER REGISTRATION

*Registration No.* HTA THA KA -6548 *Date of issue.* 25-9-96

1. *I here by registered* ASIA WORLD INDUSTRIES LTD. *of*

LANMADAW. *Town / Township* YANGON.

*State / Division as Exporter / Importer.*

(A) *Type of business* LIMITED COMPANY

(B) *Registration No.* 589/96-97

(C) *Address* NO(61.62) BAHOSI DEVELOPMENT WARDAN ST, LANMADAW T/S YANGON.

*Telephone No.* ______ *Telex No.* ______ *Fax No.* ______

(D) *Line of goods permitted* - *All items except restricted items*

(E) *Registration period* 25-9-96 TO 24-9-99.

*N.B The enterprise must abide by the Export/Import rules & regulations prescribed for the registered Exporters / Importers.*

25/9/96

For DIRECTOR GENERAL

( MG WIN - ASSISTANT DIRECTOR )

2. *Extension of Export / Import registration period*

| *Period extended* | *Authorized signature & name* |
|---|---|
| (1) ______ *upto* ______ | ______ |
| (2) ______ *upto* ______ | ______ |
| (3) ______ *upto* ______ | ______ |

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment ~~from the~~ made on 17th , of July 1998.

on the of 19 of the * Asia World Industries Limited.

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 1 Share

" " " " .....

Nominal amount of the shares so allotted ..... Ks. 10,000/-

" " " " .....

Amount paid or due and payable on each such share .... Ks. 10,000/- (Fully paid)

" " " "

Number of ordinary shares allotted for a consideration other than cash Nil

Nominal amount of the ordinary shares so allotted .. Nil

Amount to be treated as paid on each such share .... Nil

The consideration for which such share have been allotted is as folllows:- Nil

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

Presented for filing by: U Htun Myint Naing, Managing Director.

Names, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. Chai Yong Hway (12/ Ka Ta Ta(Naing) 025360) | No.317/319, Pansodan Street, Kyauktada Township, Yangon. | Merchant | | 1 |
| | | | Total - | 1 Share |

Signature

U Htun Myint Naing,
Managing Director.

Date - 17-7-[illegible]

HTUN MYINT NAING
MANAGING DIRECTOR
ASIA WORLD INDUSTRIES LTD.

FORM XXVI

# PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act. See Section 87)

Name of Company : ASIA WORLD INDUSTRIES LIMITED.

Presented by : U Htun Myint Naing, Managing Director.

| The present Christian name or names of surnames | Nationality, National Registration Card No: | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| Asia World Co,Ltd: Represented by : | Incorporated in Myanmar | | | |
| 1. U Htun Myint Naing 12/ Ma Ya Ka(Naing) 101655 | Myanmar | No. 20/23, Maseeyein Kyaung Street, Mayangone Township, Yangon. | Managing | Managing Director. |
| 2. U Maung Kyay 12/ La Tha Na (Naing) 018174 | Myanmar | No.36, Yee Kyaw Street, Ward No. (9), Pazundaung Township, Yangon. | Director | Director. |
| 3. U Kyin Tun 12/Kha Ya Na(Naing) 077362 | Myanmar | No.100, Sane Street, Ward No. (4), Kayan Township, Yangon Division. | Director | Resigned from Director, w.e.f. 17-7-98. |
| 4. U Than Myint 12/ La Ma Ta(Naing) 027772 | Myanmar | No. 62, Shwe Taung Tan Street, Lanmadaw Township, Yangon. | Director | Director. |
| 5. Chai Yong Hway 12/ Ka Ta Ta(Naing) 025360 | Myanmar | No.317/319, Pansodan Street, Kyauktada Township, Yangon. | | Appointed as Director, w.e.f. 17-7-98. |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..................." and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature

Designation U Htun Myint Naing, Managing Director.

TUN MYINT NAING
MANAGING DIRECTOR
ASIA WORLD INDUSTRIES LTD.

Dated this 17-7-98.

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Presented by: U Htun Myint Naing, Managing Directo

Name of Company: ASIA WORLD INDUSTRIES LIMITED

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| (1) Asia World Company Limited Represented By: U Htun Myint Naing | Incorporated in Myanmar<br>Myanmar 12/Ma Ya Ka (Naing)101635 | No.20/23, Masoeyein Kyaung Street, Mayangone Township, Yangon. | Managing Director | Appointed as Managing Director W.e. f 20.9.96 |
| (2) U Maung Kyay | Myanmar 12/LaThaNa (Naing)018174 | No. 36, Yee Kyaw Street, Ward No. (9), Pazundaung Township, Yangon. | Director | Appointed as Director w.e.f 20.9.96 |
| (3) [illegible]Kyin Tun | Myanmar 12/KhaYaNa | No. 100, Sane street, Ward No. (4), Kayan Township, Yangon Division. | Director | Appointed as Director w.e.f 20.9.96 |
| (4) U Than Myint | Myanmar 12/LaMaTa | No. 62, Shwe Taung Tan Street, Lanmadaw Township, Yangon. | Director | Appointed as Director w.e.f 20.9.96 |

NOTE:
(1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..........................." and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature .......

Designation ( HTUN MYINT NAING )
( Managing Director )

( HTUN MYINT NAING )
MANAGING DIRECTOR
ASIA WORLD INDUSTRIES LIMITED

Dated this 23rd September 1996

ရင်းနှီးမြှုပ်နှံမှုကော်မရှင် ပို့စာ(မနသ-) စာအမှတ် ၃၂.၄၃. နေ့စွဲ ၂၅.၆.၉၄

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၂၆၃/၉၄ ၁၉၉၄ ခုနှစ်၊ ဇွန် လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးထွန်းမြင့်နိုင်

(ခ) အဘအမည် ဦးလောစစ်ဟန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက(နိုင်)၁၀၁၆၃၅

(ဃ) နေရပ်လိပ်စာ အမှတ်(၂၀၊ ၂၃)၊ မစိုးရိမ်ကျောင်းလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း အေးရှားဝါး(လ်)အင်ဒတ်(စ်)ထရီလီမိတက်( Asia World Industries Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား Laminated Woven Bags ထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဒဂုံမြို့သစ်တောင်ပိုင်း၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃)၊ မြေကွက်အမှတ်(၁၂၅)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၇၅သန်း (ကျပ်နှစ်ရာခုနစ်ဆယ့်ငါးသန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၅၄ /၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ ပထမဝါဆိုလဆန်း ၁၃ ရက်။
(၁၉၉၉ ခုနှစ်၊ ဇွန်လ ၂၅ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.) သည် Asia World Co., Ltd. အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ဒဂုံမြို့သစ်တောင်ပိုင်း၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် (၂၃)၊ မြေကွက်အမှတ် (၁၂၅)၊ ရှိမြေ (၃.၁၄၂)ဧက (၁၂၇၁၅.၂၃ စတုရန်းမီတာ)ပေါ်တွင် စက်ရုံ တည်ဆောက်ကာ Laminated Woven Bags ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၄-၅-၉၉)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (ဂ/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၁၇-၆-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၁/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.)အား **Laminated Woven Bags ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ-၂၆၃/၉၉ ကို ထုတ်ပေး လိုက်သည်။**

၂။ **အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ** အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့်

ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List)

များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် <u>ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ</u> အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၈။ အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.)၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် အစုရှယ်ယာဝင် တစ်ဦးဖြစ်သော အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက် (Asia World Co., Ltd.)၏အမည်ပေါက် မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည်ဖြစ်ရာ၊ ကုမ္ပဏီ၏ အစုရှယ်ယာထည့်ဝင်မှု ကိစ္စများ ဆောင်ရွက်ပြီးစီးသည့်အချိန်တွင် အဆိုပါ မြေကွက်အား၊ အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.)၏ အမည်ပေါက် ဖြစ်စေရေးအတွက် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနသို့ လျှောက်ထားဆောင်ရွက်ရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ နေထိုင်ခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၂။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၃။ **အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.) သည်** ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၄။ **အေးရှားဝါး(လ်) အင်ဒတ်(စ်)ထရီ လီမိတက် (Asia World Industries Ltd.) သည်** ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

**အ မိန့် အ ရ –**

**( ဗိုလ်မှူးချုပ် မောင်မောင် )**
**အတွင်းရေးမှူး**

**စာအမှတ်၊ ရက–၁/မ–၃၅၄/၉၉ (၃၂၄၃)**
**ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇွန်လ ၂၅ ရက်။**

**ဖြန့်ဝေခြင်း–**

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

လုပ်ငန်း တည်ဆောက် ပြုပြင်မွမ်းမံ ဆောင်ရွက်မှု အခြေအနေပြပုံ



လုပ်ငန်း တည်ဆောက် ပြုပြင်မွမ်းမံ ဆောင်ရွက်မှု အခြေအနေပြပုံ



စက်ပစ္စည်းများ တပ်ဆင် ဆောင်ရွက်နေပုံ



စက်ပစ္စည်းများ တပ်ဆင် ဆောင်ရွက်နေပုံ



# ASIA WORLD COMPANY LIMITED

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.

TEL : 225271, 220074, 225982, 225184, 222422 FAX : (95-1) 227474,227553 TLX : 21519 KKEI BM.


စာအမှတ် ။ AWC - 197 / 99
ရက်စွဲ ။ - 6 - 99

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ ။ ။ <u>ခွင့်ပြုမိန့်ထုတ်ယူခွင့်ပြုပါရန်လျှောက်ထားခြင်း။</u>

၁။ ကျွန်တော်များ ကုမ္ပဏီလီမီတက်သည် ဒဂုံမြို့သစ်တောင်ပိုင်း၊ စက်မှုဇုံ မြေတိုင်းအမှတ်(၂၃)၊ မြေကွက်အမှတ်(၁၂၅)တွင် LAMINATED WOVEN BAGS စက်ရုံကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းလုပ်ကိုင် ခွင့်ပြုပါရန် လျှောက်ထားခဲ့ပါသည်။

၂။ အဆိုပါလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်ကို အောက်ပါကုမ္ပဏီ၏ ဝန်ထမ်းအား ကျွန်တော်များကုမ္ပဏီ၏ကိုယ်စား ထုတ်ယူခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

အမည် - ဒေါ်ဝေဝေအောင်

မှတ်ပုံတင်အမှတ် - KYN - 157334

လက်မှတ် - ----------------

လေးစားစွာဖြင့်

TUN MYINT NAING
MANAGING DIRECTOR
ASIA WORLD CO., LTD.

R - 1504
24·6·99

အစည်းအဝေးအမှတ်စဉ် - ၁၆။
(ရုံးတွင်းစာအား ကျဉ်းချုပ်သို့တည်းမဟုတ်စာကြမ်းရေးရန်စာရွက်)

အကြောင်းအရာ။ ။ **အေးရှားဝါး(လ်)အင်ဒတ်(စ်)ထရီလီမိတက်(Asia World Industries Ltd. )မှ Laminated Woven Bags ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။**

၁။ မြန်မာကုမ္ပဏီဖြစ်သော အေးရှားဝါး(လ်)အင်ဒတ်(စ်)ထရီလီမိတက်( Asia World Industries Ltd. )မှ Asia World Co., Ltd. အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသောမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်၊ ဒဂုံမြို့သစ်တောင်ပိုင်း၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃)၊ မြေကွက်အမှတ်(၁၂၅)ရှိ မြေ(၃.၁၄၂)ဧက(၁၂၇၁၅.၂၃ စတုရန်းမီတာ) ပေါ်တွင်စက်ရုံတည်ဆောက်က Laminated Woven Bags ထုတ်လုပ်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား(၁၄-၅-၉၉)နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၈/၉၉)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ(၁၇-၆-၉၉)နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏(၂၁/၉၉)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

အဖွဲ့ထွေအရင်ရှင်-၁၆။

(ချုံးတွင်းစာအကျဉ်းချုပ်သို့တည်းမဟုတ်စာကြမ်းရေးရန်စာရွက်)



၃။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၅)၊ ပုဒ်မ ၁၀ နှင့်ယင်းဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း (၄)၊ အပိုဒ် ၁၂ တို့နှင့်အညီ အေးရှားဝါး(လ်)အင်ဒတ်(စ်)ထရီလီမိတက်( Asia World Industries Ltd. )သို့ထုတ်ပေးမည့်ခွင့်ပြုမိန့်တွင်လက်မှတ်ရေးထိုးနိုင်ပါရန်နှင့်ယင်း<u>ခွင့်ပြုမိန့်</u>ထုတ်ပေးမည့်<u>အမှာစာ(မူကြမ်း)</u>ကိုသဘောတူအတည်ပြုပေးနိုင်ပါရန်ပြုစုတင်ပြအမိန့်နာခံအပ်ပါသည်။

၂၂-၆-၉၉။

<u>အတွင်းရေးမှူး(ဝန်ကြီး)</u>

Permit တွင်လက်မှတ်ရေးထိုးပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

<u>ဥက္ကဋ္ဌ(ဒုတိယဝန်ကြီးချုပ်)</u>

၂၃/၆

*၅၂၄/၆/၉၉။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ် ၊ ရက-၁/ မ-၉၈၀/ ၉၉ ( ၂၅၃၆ )။
ရက်စွဲ ၊ ၁၉၉၉ခုနှစ်၊ ဇွန်လ ၄ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ အေးရှားဝါး(လ်) အင်ဒတ်စ်ထရီ လီမိတက် မှ Laminated Woven Bags ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အေးရှားဝါး(လ်) အင်ဒတ်စ်ထရီ လီမိတက် (Asia World Industries Ltd.) မှ Laminated Woven Bags ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၄-၅-၉၉)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ်ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၃.၅၀)သန်း အပါအဝင် ကျပ်(၂၇၅.၀၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ်(၈၉.၈၁၂)သန်း {အမေရိကန်ဒေါ်လာ (၀.၈၂၈)သန်းအပါအဝင်}၊ စက်ပစ္စည်းကိရိယာ တန်ဖိုးကျပ် (၁၁.၄၉၆)သန်း {အမေရိကန်ဒေါ်လာ (၁.၉၁၆)သန်း}၊ အဆောက်အဦ တန်ဖိုးကျပ် (၁၅၉.၈၁၆)သန်း {အမေရိကန်ဒေါ်လာ (၀.၁၁၀)သန်း အပါအဝင်}၊ မြေတန်ဖိုးကျပ်(၁၀.၀၀)သန်းနှင့် ကုန်ကြမ်းတန်ဖိုးကျပ် (၃.၈၇၆)သန်း {အမေရိကန်ဒေါ်လာ (၀.၆၄၆)သန်း} ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ ငွေသားကျပ်(၈၉.၈၁၂)သန်းတွင် ကိုယ်ပိုင်ထည့်ဝင်ငွေကျပ် (၁၄.၈၄၄)သန်း၊ ပြည်တွင်းချေး ငွေကျပ်(၇၀.၀၀၀)သန်းနှင့် ပြည်ပချေးငွေကျပ်(၄.၉၆၈)သန်း {အမေရိကန်ဒေါ်လာ (၀.၈၂၈)သန်း}ပါဝင်ပါသည်။ ပြည်ပချေးငွေ စက်ပစ္စည်းနှင့် ကုန်ကြမ်းများကို စင်ကာပူနိုင်ငံ Golden Aaron Pte Ltd. မှ ရှေ့ဆိုင်းငွေပေး ချေခြင်းစနစ်ဖြင့် ဆိုင်းငံကာလ (၃)နှစ်နှင့် (၁၀)နှစ်အတွင်း တစ်နှစ်လျှင် အတိုးနှုန်း (၇)ရာခိုင်နှုန်းဖြင့် ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။ ပြည်တွင်းချေးငွေကို တစ်နှစ်လျှင် အတိုးနှုန်း (၁၆.၅)ရာခိုင်နှုန်းဖြင့် ရယူမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် Asia World Co., Ltd. အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်၊ မြေကွက်အမှတ် (၁၂၅)၊ မြေတိုင်းရပ်ကွက်အမှတ် (၂၃)၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းရှိမြေ (၃.၁၄၂)ဧက (၁၂၇၁၅.၂၃ စတုရန်းမီတာ)ပေါ်တွင် စက်ရုံတည်ဆောက်ပြီး Laminated Woven Bags ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ပုံမှန်နှစ်တွင် Laminated Woven Bags အိတ်ထောင်ပေါင်း (၂၆၀၀၀) ထုတ်လုပ်မည်ဖြစ်ပြီး၊ (၂၀)ရာခိုင်နှုန်းကို ပြည်ပသို့တစ်အိတ်လျှင် အမေရိကန်ဒေါ်လာ(၀.၁၀၅)ဖြင့် လည်းကောင်း၊ ထုတ်လုပ်မှု၏ (၃၀)ရာခိုင်နှုန်းကို ပြည်တွင်းတွင် နိုင်ငံခြားငွေဖြင့် တစ်အိတ်လျှင် အမေရိကန်ဒေါ်လာ (၀.၁၁)နှုန်းဖြင့်လည်းကောင်း၊ ထုတ်လုပ်မှု၏ (၅၀)ရာခိုင်နှုန်းကို ပြည်တွင်းတွင် ကျပ်ငွေဖြင့် တစ်အိတ်လျှင်(၂၉)ကျပ်နှုန်းဖြင့်လည်းကောင်း အသီးသီး ရောင်းချသွားမည် ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းအတွက် လိုအပ်သောကုန်ကြမ်းအားလုံးကို ပြည်တွင်းပြည်ပမှ ဝယ်ယူမည်ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၃၇၇.၀၀ | ၈.၄၂ | ၃၈၅.၄၂ |
| (ခ) | အသုံးစရိတ် | ၃၃၉.၆၂ | ၆.၁၉ | ၃၄၅.၈၁ |
| (ဂ) | အသားတင်အမြတ် | ၃၇.၃၈ | ၂.၂၃ | ၃၉.၆၁ |

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
|---|---|---|---|
| (က) ဝင်ငွေခွန် | ကျပ် | ၁၆.၀၂ | သန်း |
| | အမေရိကန်ဒေါ်လာ | ၀.၀၇ | သန်း |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၃၇.၇၀ | သန်း |
| | အမေရိကန်ဒေါ်လာ | ၀.၀၇ | သန်း |

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၄၄၀)ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၁၂)ဦးခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။ နိုင်ငံခြားသား ဝန်ထမ်းများကို ပထမနှစ်တွင် (၁၂)ဦး၊ ဒုတိယနှစ်တွင် (၈)ဦးနှင့် တတိယနှစ်တွင်(၆)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ်(၁) စက်မှု ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းများကို လိုက်နာမည် ဖြစ်ကြောင်း၊ ချေးငွေကို လုပ်ငန်းမှ ရရှိမည့် တရားဝင်

နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် မသက်ဆိုင်ဘဲ ငွေချေးသူ၏ တာဝန်သာဖြစ်ကြောင်းနှင့် လုပ်ငန်းအသစ် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) အေးရှားဝါး(လ်) အင်ဒတ်စ်ထရီ လီမိတက်မှ Laminated Woven Bags ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဗိုလ်မှူးချုပ် ခင်မောင်မောင် )
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
**မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန**
အမှတ်၊ ၂၂၈-၂၃၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။

စာအမှတ်၊ စီမံ/နဆစ/ထွေ/၉၉(၁၃၀ )
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

သို့
တွဲဖက်အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Asia World Industries Co., Ltd မှ Laminated Woven Bags ထုတ်လုပ်ရန်ကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၂-၉၉ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၃၅၄/၉၈(၁၁၃၅၅)

ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်တောင်ပိုင်း၊ မြေတိုင်းရပ်ကွက်အမှတ် ၂၃၊ မြေကွက်အမှတ်(၁၂၅)ရှိ မြေ(၂.၃၀၆)ဧကအကျယ်အဝန်းရှိမြေပေါ်တွင် Asia World Industries Co., Ltd မှစက်ရုံတည်ဆောက်ပြီး Laminated Woven Bags များထုတ်လုပ်ဖြန့်ဖြူးသည့်လုပ်ငန်းကိုလက်ရှိဆောင်ရွက်နေခြင်းမရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သန်းကျော်-ညွှန်ကြားရေးမှူး၊ စီမံ+အိမ်ရာ)

မိတ္တူကို-
(၁) ရုံးလက်ခံ
(၂) မျှောစာတွဲ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၁) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၆/၁၈(၁)(၁၀၄၆)/၉၉(၇၅၂၉)
ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၉ ခု၊ မတ် လ ၈ ရက်။

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၉ ခုနှစ် ဖေဖော်ဝါရီလ ၉ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၃၅၄/၉၇(၁၁၃၅၄)

Asia World Industries Co Ltd. မှ ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်တောင်ပိုင်း တွင်စက်ရုံတည်ဆောက်ပြီး Laminated Woven Bags - ထုတ်လုပ်ဖြန့်ဖြူးသည့်လုပ်ငန်းလုပ်ကိုင်လိုခြင်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( )
( မြင့်ဆွေ၊ ဂုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူကို-
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ရက်စွဲ ...
ဝင်စာ ...

*သတ္တ ၁

(၅.၇.၉၉) ၈/၉၉ MIC

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၆(ခ)/၉၀၀/၉၉(၁၅၀၂)။
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ မေလ ၄ ရက်။

အမှာစာ

အကြောင်းအရာ။ ။ အေးရှားဝါး(လ်)အင်ဒက်(စ်)ထရီလီမိတက် မှ Laminated Woven Bags ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုလာခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အေးရှားဝါး(လ်)အင်ဒက်(စ်)ထရီလီမိတက်( Asia World Industries Ltd. ) မှ Laminated Woven Bags ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုလာပါသည်။ ယင်းအဆိုပြုချက်ကို (၂-၄-၉၉) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆/၉၉) ကြိမ်မြောက်ပြုံ မြို့မှုဝင်း... အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ-

(က) လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူကြောင်း၊

(ခ) မြေတန်ဖိုးကိုကျပ်(၁၀)သိန်း တန်ဖိုးသင့်ရန်နှင့်

(ဂ) နိုင်ငံခြားသားဝန်ထမ်းများ ပထမနှစ်တွင်(၁၂)ဦး၊ ဒုတိယနှစ်တွင်(၈)ဦးနှင့် တတိယနှစ်တွင်(၆)ဦး ခန့်ထားခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်နှင့်အညီပြင်ဆင်ပြီး ပြန်လည်တင်ပြလာသဖြင့် ကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ မြေငှားရမ်းခြင်း ငွေပေးချေခြင်းစနစ်သဘောတူစာချုပ် ( မူကြမ်း ) နှင့် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများကို နောက်ဆက်တွဲ(၁)တွင်တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ(၃.၅၀)သန်း အပါအဝင်ကျပ်(၃၆၃.၀၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ်(၁၄၄.၀၀၂)သန်း [အမေရိကန်ဒေါ်လာ(၀.၀၂၀)သန်းအပါအဝင်]၊ စက်ပစ္စည်းကိရိယာများတန်ဖိုးကျပ်(၁၁.၄၉၆)သန်း [အမေရိကန်ဒေါ်လာ (၁.၉၁၆)သန်း]၊ ဆောက်အဦ တန်ဖိုးကျပ်(၁၅၆.၀၁၆)သန်း [အမေရိကန်

လျှို့ဝှက်

ဒေါ်လာ(၀.၁၁၀)သန်း အပါအဝင်]၊ မြေတန်ဖိုး ကျပ်(၁၀.၀၀)သန်း နှင့်ကုန်ကြမ်း တန်ဖိုး ကျပ်(၃.၀၇၆)သန်း[အမေရိကန် ဒေါ်လာ(၀.၆၄၆)သန်း]ထည့်ဝင်ရင်း နှီး မည်ဖြစ်ပါသည်။ ငွေသား ကျပ်(၁၇၇.၀၁၂)သန်း တွင်ကိုယ်ပိုင်ထည့်ဝင် ငွေကျပ်(၂၂.၀၄၄)သန်း ၊ ပြည်တွင်း ချေး ငွေကျပ်(၁၅၀.၀၀၀)သန်းနှင့် ပြည်ပ ချေး ငွေကျပ်(၄.၉၆၈)သန်း[အမေရိကန် ဒေါ်လာ(၀.၀၂၀)သန်း] ပါဝင်ပါသည်။ ပြည်ပ ချေး ငွေ၊ စက်ပစ္စည်း နှင့်ကုန်ကြမ်း များ ကိုစင်ကာပူနိုင်ငံ - Golden Aaron Pte Ltd. - မှ ရွှေ့ဆိုင်း ငွေ ပေး ချေခြင်း စနစ်ဖြင့်ဆိုင်း ငံ့ကာလ(၃)နှစ်နှင့်(၁၀)နှစ်အတွင်း တစ်နှစ်လျှင်အတိုး နှုန်း (၇) ရာခိုင်နှုန်း ဖြင့် ပြန်လည် ပေး ဆပ်ရမည်ဖြစ်ပါသည်။ ပြည်တွင်း ချေး ငွေကိုတစ်နှစ်လျှင်အတိုး နှုန်း (၁၆.၅) ရာခိုင်နှုန်း ဖြင့်ရယူမည်ဖြစ်ပါသည်။

၃။ ယင်း လုပ်ငန်း ကို ဆောင်ရွက်ရန်အတွက်ကမကထပြုသူဦး ထွန်းမြင့်နိုင်အမည်ဖြင့်အသုံး ပြုခွင့်ရရှိထား သော မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနပိုင်မြေကွက်အမှတ်(၁၂၅)၊ မြေတိုင်း ရပ်ကွက်အမှတ်(၂၃)၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်း ရှိ မြေ(၂.၃၀၆)ဧက(၉၃၃၂.၀၆ စတုရန်း မီတာ)ပေါ်တွင်စက်ရုံ တည်ဆောက်ပြီး Laminated Woven Bags - ထုတ်လုပ်ခြင်း လုပ်ငန်း ကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ယင်း လုပ်ငန်း မှ ပုံမှန်နှစ်တွင် Laminated Woven Bags အိတ်ထောင်ပေါင်း (၂၆၀၀၀) ထုတ်လုပ်မည်ဖြစ်ပြီး (၂၀) ရာခိုင်နှုန်း ကို ပြည်ပသို့ တစ်အိတ်လျှင်အမေရိကန် ဒေါ်လာ(၀.၁၀၅)ဖြင့်လည်း ကောင်း ထုတ်လုပ်မှု၏(၃၀) ရာခိုင်နှုန်း ကို ပြည်တွင်း တွင်နိုင်ငံခြား ငွေဖြင့်တစ်အိတ်လျှင်အမေရိကန် ဒေါ်လာ(၀.၁၁) နှုန်း ဖြင့်လည်း ကောင်း ထုတ်လုပ်မှု၏(၅၀) ရာခိုင်နှုန်း ကို ပြည်တွင်း တွင်ကျပ် ငွေဖြင့်တစ်အိတ်(၂၉)ကျပ်နှုန်း ဖြင့်လည်း ကောင်း အသီး သီး ရောင်း ချသွား မည်ဖြစ်ပါသည်။

၅။ ယင်း လုပ်ငန်း အတွက်လိုအပ် သော ကုန်ကြမ်း အား လုံး ကိုပြည်တွင်း ၊ ပြည်ပမှ ဝယ်ယူမည်ဖြစ်ပါသည်။

